# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

(မနသ - ၂)
စာအမှတ် ၅၂၇/၅-၈
ရက်စွဲ ၁၄-၅-၂၀၁၃

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၉၁၂...... / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ မေ လ ၁၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဒေါ်ခင်စန်းမြင့်

(ခ) အဘ အမည် ...... ဦးပါဆွိချောင်း(ခ)ဦးကျော်မြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၃ /တခလ(နိုင်) ၀၂၈၉၁၄

(ဃ) နေရပ်လိပ်စာ ...... အမှတ်(၁၈)၊ ဗိုဇဝါဥယျာဉ်အိမ်ရာ၊ သံသုမာလမ်း၊ (၁၅)ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... BGG Manufacturing Co., Ltd

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၆၉)ရှိမြေ(၁. ၂၇၁)ဧက အနက်(၀.၉၁၆)ဧက

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၅၀၀.၀၀ (သန်း) (အမေရိကန်ဒေါ်လာ(၀.၃၅)သန်း အပါအဝင် စုစုပေါင်း ကျပ်သန်းငါးရာတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄၉ /၂၀၁၃(မနသ)

၂၀၁၃ ခုနှစ် မေ လ ၁၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော BGG Manufacturing Co., Ltd သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဒေါ်ချိုချိုဝင်း အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ မြေကွက်အမှတ်(၆၉)ရှိမြေ (၁.၂၇၁)ဧကအနက် (၀.၉၁၆)ဧက နှင့် အဆောက်အဦတို့အား ငှါးရမ်း၍ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၀-၅-၂၀၁၃) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် BGG Manufacturing Co., Ltd အား နိုင်ငံတကာအဆင့်မီသွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၁၂ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ BGG Manufacturing Co., Ltd အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ်မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေပေါ်တွင် ၅၀% အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း၊ ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ BGG Manufacturing Co., Ltd သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ BGG Manufacturing Co., Ltd သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေပိုင်ရှင် ဒေါ်ချိုချိုဝင်း နှင့် BGG Manufacturing Co., Ltd တို့ချုပ်ဆိုမည့် မြေငှါးစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ BGG Manufacturing Co., Ltd သည် ပြည်တွင်း၊ ပြည်ပ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၉။ BGG Manufacturing Co., Ltd သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည် အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်၊ အမှတ်အသား၊ ဈေးကွက်ပိုင်း ဆိုင်ရာ တို့ နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက် ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၀။ BGG Manufacturing Co., Ltd မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ BGG Manufacturing Co., Ltd သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ BGG Manufacturing Co., Ltd သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၃။ BGG Manufacturing Co., Ltd သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ BGG Manufacturing Co., Ltd သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၃၀၇/၂၀၁၃ (၅၅၃၅-စ)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် မေ လ ၁၄ ရက်

ဖြန့်ဝေခြင်း-

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှု ဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း ၊ ရန်ကုန်မြို့

မန်နေဂျင်းဒါရိုက်တာ ၊ BGG Manufacturing Co., Ltd

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၃၀၇/၂၀၁၃(၅၃၇၂)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မေ လ ၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **BGG Manufacturing Co., Ltd မှ နိုင်ငံတကာ အဆင့်မီသွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ BGG Manufacturing Co., Ltd သည် မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဒေါ်ချိုချိုဝင်း အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၆၉)ရှိမြေ (၁.၂၇၁)ဧက အနက် (၀.၉၁၆)ဧက နှင့် အဆောက်အဦတို့အားငှါးရမ်း၍ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါ ရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်စန်းမြင့် (အဘ-ဦးပါဆွီချောင်း(ခ)ဦးကျော်မြင့်) မှ အဆိုပြု တင်ပြလာ ပါသည်။

၂။ အဆိုပြုချက် နှင့်စပ်လျဥ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာန နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

**(က)ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် မြေနေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေနှင့်အဆောက်အဦ ပိုင်ရှင် ဒေါ်ချိုချိုဝင်းထံမှ ဒေါ်ခင်စန်းမြင့်က ငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ်(၈၇)သိန်းနှုန်းဖြင့် (၂၀)နှစ် စာချုပ်ချုပ်ဆိုငှားရမ်းထားပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၄၀)ဦး အလုပ် ခန့်ထား နိုင်မည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်စေပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်းမှာ သဘာဝပတ်ဝန်းကျင်အားထိခိုက်မှုမရှိပါကြောင်း၊

(၅) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁၀/၂၀၁၃)(၇-၃-၂၀၁၃) အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ်(၇၃)အရ BGG Manufacturing Co., Ltd ၏ မြန်မာနိုင်ငံ

သားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းအသစ်ဆောင်ရွက်ခြင်းအား ထောက်ခံပါကြောင်း၊

(ခ) **စက်မှု ဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါကြောင်း၊

(၂) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိပါကြောင်း၊

(၃) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှု ရှိပါကြောင်း၊

(၄) တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊

(ဂ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - ဂ)**

BGG Manufacturing Co., Ltd သည် နိုင်ငံတကာ အဆင့်မီသွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် ကိစ္စနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်-

(၁) စက်ရုံပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာ စနစ်များ၊ စွန့်ပစ်ပစ္စည်းအစီအမံများ၊ စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးထားရှိရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး စီမံဆောင်ရွက်ရန်၊

(၂) ကုန်ကြမ်းပစ္စည်းများနှင့် ကုန်ထုတ်လုပ်ခြင်း လုပ်ငန်းစဉ်များကြောင့် မြေထု၊ ရေထုညစ်ညမ်းမှုနှင့် လူတို့၏ကျန်းမာရေးကို ထိခိုက်မှုများ မဖြစ်ပေါ်စေရေးအတွက် စနစ်တကျ သိုလှောင်သိမ်းဆည်းမည့် အစီအမံများထားရှိရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများအသုံးပြု၍ ဆောင်ရွက်ရန်၊

(၃) အဆိုပါလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကို အသုံးပြုရန်၊

(၄) ပတ်ဝန်း ကျင်ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့ အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ကိုဆောင်ရွက်ရန်၊

(၅) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့် လေ့လာမှုအစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan — EMP) ရေးဆွဲတင်ပြရန်၊

(၆) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။)**

၃။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ -ဃ)** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၀.၃၅)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၀၀.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော US$(၀.၁၃)သန်း တန်ဖိုးရှိ စက်ပစ္စည်းများ နှင့် US$(၀.၂၂)သန်း တန်ဖိုးရှိ ကုန်ကြမ်းပစ္စည်းများအား ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၆၇.၉၅ သန်း |
| (ခ) | စက်ပစ္စည်း | ကျပ် ၂၄၂.၆၇ သန်း(US$ ၀.၁၃ သန်း) |
| (ဂ) | ကုန်ကြမ်းပစ္စည်းများ | ကျပ် ၁၈၉.၃၈ သန်း (US$ ၀.၂၂ သန်း) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၅၀၀.၀၀ သန်း (US$ ၀.၃၅ သန်း အပါအဝင်)** |

၄။ အဆိုပြုလုပ်ငန်းမှ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ပြီး ပုံမှန်နှစ် (၆-နှစ်မြောက်) မှစတင်၍ ပြည်တွင်း၌ ၉၅% နှင့် ပြည်ပ(ဗီယက်နမ်နိုင်ငံ)သို့ ၅% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်) နိုင်ငံတကာ အဆင့်မီသွပ်အမိုးပြားများ ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (Ton) | ဈေးနှုန်း (တစ်တန်) | |
|---|---|---|---|---|
| | | | ကျပ် | US$ |
| (က) | Purlin C | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (ခ) | Purlin Z | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (ဂ) | Circle ribs | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (ဃ) | Square ribs (5 ribs) | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |

| | | | | |
|---|---|---|---|---|
| (င) | Square ribs (9 ribs) | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (စ) | Square ribs (4 ribs) | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (ဆ) | Tile Shape Sheet | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (ဇ) | Arch Sheet | ၉၀၀၀ | ၇၃၅၀၀ | ၉၀၀ |
| (ဈ) | Eaves | ၉၀၀၀ | ၇၂၀၀၀ | ၉၀၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**အမေရိကန်တစ်ဒေါ်လာ= ၈၅၀ ကျပ်**

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၃.၆၄၅ | ၃၀၉၈.၂၅၀ | ၅၆၄၃၀.၀၀၀ | ၅၉၅၂၈.၂၅၀ |
| (ခ) | အသုံးစရိတ် | ၆၂.၂၀၀ | ၅၂၈၇၀.၀၀၀ | ၆၅၃၀.၄၂၉ | ၅၉၄၀၀.၄၂၉ |
| (ဂ) | အသားတင် အမြတ် | (-)၅၈.၅၅၅ | (-)၄၉၇၇၁.၇၅၀ | ၄၉၈၉၉.၅၇၁ | ၁၂၇.၈၂၁ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၂၈၂၁.၅၀)သန်း နှင့် ဝင်ငွေခွန် ကျပ် (၄၂.၆၁)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ(၅)နှစ်(၈)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၁၄.၄၅)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၀၀) ဦးနှင့် ပြည်ပမှ လုပ်သား (၆)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် အလုပ်သမားများ၏ အလုပ်ချိန်ကို တစ်နေ့(၈)နာရီ သတ်မှတ်ထားပါကြောင်း၊ ဝန်ထမ်းများ၏ လစာကို ကာလပေါက်ဈေးနှင့် တွက်ချက်ထားပါကြောင်း၊ နားနေခန်း၊ စားသောက်ခန်းများ ထားရှိသွားမည် ဖြစ်ပါကြောင်း၊ သာရေး၊ နာရေး ကိစ္စရပ်များကိုလည်း ကူညီပံ့ပိုးပေးမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၈။ ကုမ္ပဏီမှ နိုင်ငံတကာအဆင်မီ သွပ်အမိုးပြားများအား BGG ROOFING MYANMAR အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်မည်ဖြစ်ပါကြောင်း စာချုပ်စာတမ်း မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၉။ လုပ်ငန်းလည်ပတ်ရန်အတွက် လိုအပ်သည့် လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက် Generator ဖြင့်လုပ်ငန်း လည်ပတ်သွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီမှ မန်နေဂျင်းဒါရိုက်တာ ဒေါ်ခင်စန်းမြင့်နှင့် ဒါရိုက်တာ ဦးတင့်ဝေ အမည်ဖြင့် ကမ္ဘောဇဘဏ်၌ ၁၈-၁--၂၀၁၃ နေ့ရှိ ငွေလက်ကျန်မှာ ကျပ် (၅၂.၆၀)သန်းဖြစ်ကြောင်း တင်ပြထားရာ သုံးစွဲမည့်ကျပ်(၂၀၂.၅၀)သန်းအတွက် ၂၆% တင်ပြထားပြီး၊ နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် MICB ဘဏ်ရှိ ၁၈-၁-၂၀၁၃ နေ့ရှိ ငွေလက်ကျန်မှာ US$(၀.၃၅)သန်းရှိကြောင်း တင်ပြထားရာ သုံးစွဲမည့် နိုင်ငံခြားငွေ US$(၀.၃၅) သန်း အတွက် လုံလောက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအသစ် ဖြစ်ပါကြောင်း၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းဆောင်ရွက်မှုလုပ်ငန်းနှင့် သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း၊ လုပ်ငန်းအား တိုင်းဒေသကြီး၏ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင်ထားမည်ဖြစ်ပါကြောင်း၊ နိုင်ငံတော်မှ ချမှတ်ထားသော မြေယာပိုင်ဆိုင်မှု ဥပဒေအား လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ BGG Manufacturing Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့တွင် နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

နောက်ဆက်တွဲ(က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ်လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈. ၂. ၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ - ၁၃၀၇ / ၂၀၁၃ ( ၂၂၅၀ )

၁။ BGG Manufacturing Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့ မြေတိုင်းရပ်ကွက်၊ အမှတ်(၂၅)၊ မြေကွက်အမှတ်(၆၉)ရှိ၊ မြေ(၁. ၂၇၁)ဧကတွင် နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဒေါ်စန်းစန်းမြင့်(ဘ)ဦးပါဆွီချောင်း(ခ) ဦးကျော်မြင့် မှ လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် မြေနေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် နောက်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။ အဆိုပြုလုပ်ငန်းလုပ်ကိုင်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦပိုင်ရှင် ဒေါ်ချိုချိုဝင်းထံမှ ဒေါ်ခင်စန်းမြင့်က ငှားရမ်းခအဖြစ် တစ်နှစ်လျှင်ကျပ်(၈၇)သိန်းနှုန်းဖြင့် (၂၀)နှစ်စာချုပ် ချုပ်ဆိုငှားရမ်းထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၄၀)ဦးအလုပ်ခန့်ထားနိုင်မည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူဖြစ်စေပါသည်။

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများ က လူမှုရေး၊စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းမှာ သဘာဝပတ်ဝန်းကျင်အားထိခိုက်နိုင်မှုမရှိပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၇ . ၃ . ၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၃)ဆုံးဖြတ်ချက်အပိုဒ်(၇၃)အရ BGG Manufacturing Co., Lt ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ငန်းသစ်ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )

ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး

ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး

လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး

BGG Manufacturing Co., Lt

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၃၄-စမ(၂) ၂၀၁၃-၂၀၁၄(၄၂၃၅)
ရက် စွဲ၊ ၂၀၁၃ ခုနှစ်၊ ဧပြီလ ၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၈.၂.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၃၀၇/၂၀၁၃(၂၂၄၉)

၁။ BGG Manufacturing Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၆၉)တွင် နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြား ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်၊

(ခ) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်၊

(ဂ) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှုရှိပါသည်၊

(ဃ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါသည်။

၃။ သို့ဖြစ်ပါ၍ BGG Manufacturing Co., Ltd. မှ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

D:2013/April 12/P-17

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** ၂/၂၂၀(ခ)(၆)/(၂၆၇၀/၂၀၁၃)
**ရက်စွဲ** ၂၀၁၃ ခုနှစ်၊ ဧပြီလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ BGG Manufacturing Co.,Ltd မှ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၂-၁၃ ရက်စွဲပါစာအမှတ်-ရက - မ (က) / မ - ၁၃၀၇ / ၂၀၁၃ (၂၂၅၁)

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏၂၂-၂-၂၀၁၃ ရက်စွဲပါစာအမှတ်- ၂ / ၂၂၀ (ခ) (၆) / (၁၃၄၇ /၂၀၁၃)

(၃) BGG Manufacturing Co., Ltd ၏ (၂၉-၃-၂၀၁၃) ရက်စွဲပါ စာအမှတ်-BGG / MIC / ၂၀၁၃ (၀၀၈)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၄-၁၃ ရက်စွဲပါစာအမှတ်-ရက - ၆ (က) / မ - ၁၃၀၇ / ၂၀၁၃ (၄၆၆၄-ည)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ BGG Manufacturing Co., Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ မြေကွက်အမှတ် (၆၉)ရှိ မြေ (၁.၂၇၁)ဧကအား ဌားရမ်း၍ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ရည်ညွှန်းချက် (၂)ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်ကြားခဲ့ပါသည်။ အဆိုပါ သဘောထားမှတ်ချက်ပြန်ကြားချက်အပေါ် BGG Manufacturing Co., Ltd မှ ရည်ညွှန်းချက်

(၃)ပါစာဖြင့် ပြန်လည်ရှင်းလင်းတင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၄)ပါစာဖြင့် သဘောထားမှတ်ချက် ပြန်လည်တောင်းခံခဲ့ခြင်းဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် BGG Manufacturing Co., Ltd ၏ မူရင်းအဆိုပြုလွှာတွင် ကုန်ထုတ်လုပ်မည့် နည်းစဉ်များကို ဖော်ပြထားခြင်းမရှိဘဲ ရည်ညွှန်းချက်(၄)ပါစာဖြင့် ပြန်လည်ရှင်းလင်းတင်ပြချက်တွင်သာ အသေးစိတ်ပါရှိပါသည်။

၃။ သို့ဖြစ်ပါ၍ BGG Manufacturing Co., Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ မြေကွက်အမှတ် (၆၉) ရှိ မြေ (၁.၂၇၁)ဧကအား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ ပြန်လည်စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) စက်ရုံပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်များ၊ စွန့်ပစ်ပစ္စည်းအစီအမံများ၊ စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးထားရှိရန်၊ လုပ်ငန်းခွင်လေကောင်းလေသန့်ရရှိစေရေး စီမံဆောင်ရွက်ရန်၊

(ခ) ကုန်ကြမ်းပစ္စည်းများနှင့် ကုန်ထုတ်လုပ်ခြင်းလုပ်ငန်းစဉ်များကြောင့် မြေထု၊ ရေထု ညစ်ညမ်းမှုနှင့် လူတို့၏ကျန်းမာရေးကို ထိခိုက်မှုများ မဖြစ်ပေါ်စေရေးအတွက် စနစ်တကျ သိုလှောင်သိမ်းဆည်းမည့် အစီအမံများထားရှိရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများအသုံးပြု၍ ဆောင်ရွက်စေရန်၊

(ဂ) အဆိုပါလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကို အသုံးပြုရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုနှင့်လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination - IEE) ကို ဆောင်ရွက်ရန်၊

(င) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြစေရန်၊

(စ) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေတို့နှင့်အညီ လိုက်နာကျင့်သုံးအကောင် အထည်ဖော်ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၃၄၇ /၂၀၁၃)
ရက်စွဲ ၂၀၁၃ခုနှစ်၊ဖေဖော်ဝါရီလ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ BGG Manufacturing Co.,Ltdမှ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၂-၁၃ ရက်စွဲပါစာအမှတ်၊ရက-မ (က)/မ-၁၃၀၇/၂၀၁၃(၂၂၅၁)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ BGG Manufacturing Co.,Ltd သို့ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ မြေကွက်အမှတ် (၆၉)ရှိ မြေ (၁.၂၇၁) ဧကအား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ သဘာဝပတ်ဝန်းကျင် ထိခိုက်မှုရှိ/မရှိ စိစစ်ပြီး ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာအား စိစစ်ရာတွင် ထုတ်လုပ်မည့်ပစ္စည်းအမျိုးအစားများမှာ Purlin C, Purlin Z, Circle ribs, Square ribs(ribs), Title shape sheet, Arch sheet, Eaves တို့ဖြစ်ပြီး အဆိုပြုလွှာနှင့်အတူ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် ၊ လုပ်ငန်းပိုင်း နှင့် ငွေရေးကြေးရေး အထောက်အထားများ၊ မြေငှားစာချုပ်၊ ဘဏ္ဍာရေး အချက်အလက် နှင့်ပတ်သက်၍ တွက်ချက်မှုများ၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း ၊ ပြည်ပမှမှာယူတင်သွင်းမည့် စက်ပစ္စည်းစာရင်းနှင့် နှစ်စဉ်ကုန်ကြမ်း လိုအပ်ချက်စာရင်း၊ အမိုးပြားများထုတ်လုပ်မည့် စက်ပစ္စည်းဆိုင်ရာ အချက်အလက်များ ၊ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ် မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြခြင်း နှင့် စက်ရုံနှင့် စက်ရုံပတ်ဝန်းကျင် အနေအထားကို ဖော်ပြသော ဓါတ်ပုံများ စသည်တို့ ပူးတွဲပါရှိသော်လည်း ကုန်ထုတ်လုပ်မှုနည်းစဉ် များကို ဖော်ပြခြင်းမရှိပါကြောင်း လေ့လာတွေ့ရှိရပါသည်။

၃။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြချက်တွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက်စီမံခန့်ခွဲရေးဌာန ၊ ကုန်ချောပစ္စည်းထုတ်လုပ်သည့်ဌာန ၊ ကုန်ကြမ်းပြုပြင်ရေးဌာနများ ခွဲထား၍ သန့်စင်ခန်းများထားရှိခြင်း ၊ သောက်သုံးရေ ရရှိစေရေးစေ၍

ရေအလုံအလောက် အသုံးပြုစေခြင်း ၊ အမှိုက်စွန့်ပစ်ရန် နေရာများထားရှိခြင်း ၊ စက်ရုံ ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းများကို စီစဉ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ၊ အလုပ်သမားများအတွက် ကျန်းမာရေးဆေးခန်းထားရှိခြင်း ၊ စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ခြင်းနှင့် စက်ရုံအတွင်းမှ ထွက်လာသော အမှိုက်များကိုလည်း စနစ်တကျ စွန့်ပစ်ခြင်း ၊ ပတ်ဝန်းကျင် စိမ်းလန်းသာယာရေးအတွက် အလှပန်းပင်များ နှင့် အရိပ်ရပင်များ စိုက်ပျိုးပေးသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ သို့သော် လုပ်ငန်းအဆိုပြုလွှာတွင် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ် နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) တို့ကို ထည့်သွင်းဖော်ပြထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ အဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့်ကုန်ကြမ်းများမှာ Cold rolled coil(Silting coil), Galvanized Iron Coil(GL)(100%Zinc), Galvanized Aluminium(GL), Pre-Painted Galvanized Iron(PPGI), Pre-Painted Galvanized Aluminium တို့ဖြစ်ပြီး လုပ်ငန်း သဘာဝအရ သတ္တုများရောစပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရမည်ဖြစ်သဖြင့် အလွန်သေးငယ်သော အမှုန်အမွှားများ ထွက်ရှိမည့်အပြင် စက်ရုံလည်ပတ်ခြင်းမှ ကာဗွန်ဒိုင်အောက်ဆိုဒ် ၊ ကာဗွန်မိုနောက်ဆိုဒ်၊ကန့်ဒိုင်အောက်ဆိုဒ်၊ဟိုက်ဒရိုကာဗွန်ဓါတ်ငွေ့များအစရှိသည့် ထုတ်လွှတ်အခိုးအငွေ့ များထွက်ရှိခြင်းကြောင့် လေထုညစ်ညမ်းခြင်း နှင့် စက်ရုံတွင်း ဝန်ထမ်းများ၏ အဆုတ်နှင့် အသက်ရှူ လမ်းကြောင်းများထိခိုက်နိုင်မှု၊ စက်ရုံမှထွက်ရှိလာသော စွန့်ပစ်အစိုင်အခဲနှင့် စွန့်ပစ် အရည်များတွင် အက်စစ်ဓါတ်လွန်ကဲခြင်း ၊ အယ်လ်ကာလီဓါတ်လွန်ကဲခြင်း ၊ အပူချိန်မြင့်မား ခြင်း၊ အဆိပ်အတောက်ဖြစ်စေသော ဓါတုပစ္စည်းများပါဝင်နေခြင်း အစရှိသည့်အခြေအနေများ တွင် သန့်စင်မှုမပြုလုပ်ဘဲ မြစ် ၊ ချောင်း ၊ အင်းအိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ခြင်းကြောင့် ရေထုညစ်ညမ်းမှု ၊ စွမ်းအားမြင့် generator များမောင်းနှင်လည်ပတ်ခြင်း ၊ ကုန်ချောများ ထုပ်ပိုးခြင်း ၊ ကရိန်းများဖြင့် တင်ချပြုလုပ်ခြင်းစသည့် လုပ်ငန်းစဉ်များကြောင့် ဆူညံသံများ ထွက်ပေါ်လာပြီး အသံညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်စေ နိုင်ပါသည်။

၅။ သို့ဖြစ်ပါ၍ BGG Manufacturing Co.,Ltd သို့ သွပ်အမိုးပြားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြု တင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက် များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) ကုန်ကြမ်းပစ္စည်းများ နှင့် ကုန်ထုတ်လုပ်ခြင်း လုပ်ငန်းစဉ်များကြောင့် မြေထု ၊ ရေထု ညစ်ညမ်းမှု နှင့် လူတို့၏ ကျန်းမာရေးကို ထိခိုက်မှုများ မဖြစ်ပေါ်စေရေး အတွက် စနစ်တကျ သိုလှောင်သိမ်းဆည်းမည့် အစီအမံများထားရှိရန် ၊ ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများအသုံးပြု၍ ဆောင်ရွက်စေရန်၊

(ခ) ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် စွန့်ပစ်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည် များစွန့်ပစ်ရာတွင် စက်မှုဝန်ကြီးဌာနများမှ ပြဋ္ဌာန်းထားသော စံချိန်စံညွှန်း ထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်စေရန်၊

(ဂ) အဆိုပြုစီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁ - ၁ - ၂၀၁၃ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် ၊ ၁/၂၀၁၃ အရ ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ပတ်ဝန်းကျင်ထိခိုက်မှုနှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment - EIA)၊ (Social Impact Assessment-SIA) တို့ကို ဆောင်ရွက်ပြီးမှသာ စိစစ်ခွင့်ပြုရန်၊

(ဃ) လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်းအပါအဝင် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာတို့တွင် ဒေသခံပြည်သူများ၏ သဘောတူညီချက်များ ရယူဖော်ပြရန်၊

(င) ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာတွင် သဘာဝပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ထိခိုက်ပြုန်းတီးမှုများ မရှိစေရေးအတွက် စွန့်ပစ်ပစ္စည်း ၊ စွန့်ပစ်အရည်များ ပြုပြင်သန့်စင် ခြင်းလုပ်ငန်းနည်းစဉ် ၊ အလုပ်သမားများအတွက် လုပ်ငန်းခွင် ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အသိပညာပေး လုပ်ငန်းများ ဆောင်ရွက်ပေးခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းသက်သာစေသည့် ဆောင်ရွက်ချက်များနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ကျခံမည့်ကုန်ကျစရိတ်များ ပါဝင်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် ( Environmenal Management Plan-EMP)ရေးဆွဲတင်ပြရန်၊

(စ) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ တည်ဆဲဥပဒေတို့နှင့် အညီ လိုက်နာဆောင်ရွက်စေရန်၊

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုးဝင်း ၊ ရုံးအဖွဲ့မှူး )

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏

ဆောင်ရွက်ရန် အဆိုပြုချက်

"ဘီဂျီဂျီ မန်နူဖက်ချားရင်း ကုမ္ပဏီလီမိတက်"

PROPOSAL OF THE INVESTMENT TO MAKE

MYANMAR CITIZENS INVESTMENT IN THE

UNION OF MYANMAR

"BGG MANUFACTURING COMPANY LIMITED"

# BGG Manufacturing Company Limited

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

စာအမှတ်။ ။ဘီဂျီဂျီ / MIC / ၂၀၁၃ (၀၀၉)

နေ့စွဲ ။ ။ ၂၀၁၃ ခုနှစ် ၊ မေလ( ၆ )ရက်

အကြောင်းအရာ။ ။BGG Manufacturing Company Limited မှ နိုင်ငံတကာအဆင့်မီအိမ်မိုးသွပ်ပြားအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအားမြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂ . ၅ . ၂၀၁၃ ရက်စွဲပါ စာအမှတ် ရက-၆(က) /မ-၁၃၁၇/၂၀၁၃ (၅၂၆၅)

BGG Manufacturing Company Limited မှ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန် ၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅) ၊ မြေကွက်အမှတ် (၆၉)တွင် စက်ရုံတည်ဆောက်ကာ နိုင်ငံတကာအဆင့်မီ သွပ်ပြားအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခြင်းကိစ္စရပ် နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အကြောင်းကြားသည့်စာကို လက်ခံရရှိခဲ့ပါသည်။

BGG Manufacturing Company Limited သည် နိုင်ငံတကာအဆင့်မီ အိမ်မိုးသွပ်ပြား အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ရာတွင် အောက်ဖော်ပြပါ အချက်များအား လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(က) စက်ရုံ၏ပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်များ၊စွန့်ပစ်ပစ္စည်းများအတွက် စီမံဆောင်ရွက်မှုများ၊ စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးထားရှိ၍ ၊ လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး စီမံဆောင်ရွက်မည်ဖြစ်ပါကြောင်း၊

(ခ) ကုန်ကြမ်းပစ္စည်းများနှင့်ကုန်ထုတ်လုပ်ခြင်း လုပ်ငန်းစဉ်များကြောင့် မြေထု ၊ရေထု ညစ်ညမ်းမှုနှင့် လူတို့၏ ကျန်းမာရေးကိုထိခိုက်မှုများမဖြစ်ပေါ်စေရေးအတွက် စနစ်တကျ သိုလှောင်သိမ်းဆည်းမည့် အစီအမံများထားရှိမည်ဖြစ်ပါကြောင်း ၊ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများ အသုံးပြု၍ စီမံဆောင်ရွက်မည်ဖြစ်ပါကြောင်း၊

(ဂ) အဆိုပါလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများ ၊နည်းလမ်းများကို အသုံးပြုမည်ဖြစ်ပါကြောင်း၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုနှင့်လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာကနဦးလေ့လာခြင်း(Initial Environmental Examination –IEE)ကိုဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း၊

(င) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း ၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့် လေ့လာမှု အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပေါ့ရေး ဆောင်ရွက်မည့်လုပ်ငန်းများ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP)ရေးဆွဲတင်ပြမည်ဖြစ်ပါကြောင်း၊

(စ) နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN SAN MYINT
MANAGING DIRECTOR
BGG MANUFACTURING CO., LTD.

BGG Manufacturing Company Limited

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

စာအမှတ်။ ။ BGG / MIC / ၂၀၁၃ ( ၀၀၈ )

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ မတ်လ ( ၁၅ )ရက်

အကြောင်းအရာ။ ။ BGG Manufacturing Co.,Ltd မှ နိုင်ငံတကာ အဆင့်မီသွပ်အမိုးပြားများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စရပ်နှင့်စပ်လျဉ်း၍ ပြန်လည်ရှင်းလင်းတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄. ၃. ၂၀၁၃)ရက်စွဲပါစာ

BGG Manufacturing Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ရွှေလင်ပန်းစက်မှုမြို့တွင် နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် လမ်းညွှန်ချက်အပေါ် အောက်ပါအတိုင်းပြန်လည်ရှင်းလင်းတင်ပြအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့်ပစ္စည်းများမှာ Purline , Purlin Z,Circle ribs, Square Ribs(ribs), Tile Shape Sheet, Arch Sheet , Eaves တို့ဖြစ်ပြီး ထုတ်လုပ်မှုနည်း

စဉ်များမှာ ပူးတွဲ (က)ပါ သွပ်ပြားပုံသွင်းစက်၊ သွပ်ပြားပုံဖော်စက် ၊ ဖြတ်စက် ( ၉ ) မျိုး အားပြည်ပမှမှာယူတင်သွင်း၍ တပ်ဆင်အသုံးပြုပြီး အမိုးပိုင်းများထုတ်လုပ်ရန် အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများအား ဂျပန်စက်မှု အရည်အသွေးမီ အရောင်တင်ပြီး ၊ သွပ်ရည်စိမ်ပြီး ဖြတ်တောက်ပုံသွင်းရန် အသင့်ဖြစ်သော သွပ်လိပ် ၊ သံဖရိုန်ချောင်းကုန်ကြမ်းများကိုဗီယက်နမ်နိုင်ငံမှ တင်သွင်း၍ ထုတ်လုပ်မည်ဖြစ်ပါသည်။

(ခ) ထုတ်လုပ်မှု စနစ်တွင် စာတုပစ္စည်းများသုံးစွဲမှုမရှိပါကြောင်း ၊ ဆေးရောင်ပါရှိပြီးဖြစ်သော သွပ်သံအလိပ်များနှင့် သတ္တုအရောင်ပါပြီး Galvanized အလူမီနီယံ သွပ် ၊ သံလိပ်များအရန်သင့် သုံးစွဲခြင်းကြောင့်ထုတ်လုပ်မည့်အမိုးပိုင်းသုံးပစ္စည်းများအား ဆေးမှုတ်ခြင်း၊ ဆေးပေါင်းခြင်း လုပ်ငန်းများ ပါဝင်မှုမရှိကြောင်း၊ ပုံသွင်းလိုင်းဖော်ပြီး အမိုးပိုင်းသုံးပစ္စည်းများအာဝယ်ယူသူမှ မှာယူသည့်အတိုင်း အလျား x အနံ ဖြင့် အတိအကျ ဖြတ်တောက်ရောင်းချခြင်းဖြစ်၍ စွန့်ပစ်ပစ္စည်းထွက်ရှိမှု မရှိပါကြောင်းနှင့် ထုတ်လုပ်မှု နည်းစနစ်တွင် ရေသုံးစွဲမှု ၊ ရေဆိုးစွန့်ပစ်မှု လုံးဝမရှိပါကြောင်း ပတ်ဝန်းကျင်သို့လည်း အသံဆူညံမှုမရှိနိုင်ပါကြောင်းတင်ပြအပ်ပါသည်။

(ဂ) ရန်ကုန်တိုင်းဒေသကြီး အဖွဲ့မှလည်း လာရောက်ကွင်းဆင်းစစ်ဆေးပြီး၊သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုနိုင်မှု မရှိပါကြောင်း ပြန်လည်သဘောထားမှတ်ချက်ပြုထားပါသည်။

သို့ဖြစ်ပါ၍ လုပ်ငန်းအား နိုင်ငံတကာ စံချိန်စံညွှန်းနှင့် အညီ ဆောက်လုပ်၍ ကုန်ပစ္စည်းများထုတ်လုပ်မည် ဖြစ်ပါသောကြောင့်နှင့် မြန်မာနိုင်ငံမှ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုကိုလုံးဝထိခိုက်မှု မရှိအောင်ဆောင်ရွက်မည်ဖြစ်ပါကြောင်းဆောင်ရွက်ခွင့်ရရှိပြီးပါကလည်း အခြားလိုအပ်ချက်များရှိလာပါကလူကြီးများ၏ လမ်းညွှန်ချက်နှင့်အညီဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN SAN MYINT
MANAGING DIRECTOR
BGG MANUFACTURING CO., LTD.

**BGG Manufacturing Company Limited**

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

နေပြည်တော်

စာအမှတ်၊ BGG / MIC / 2013 (007)

နေ့စွဲ၊ ၂၀၁၃ ခုနှစ်၊ မတ်လ၊ ၈ ရက်

အကြောင်းအရာ။ ။ <u>ဘီဂျီဂျီ မန်နူဖက်ချားရင်း ကုမ္ပဏီလီမိတက် မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ။</u>

ဘီဂျီဂျီ မန်နူဖက်ချားရင်း ကုမ္ပဏီလီမိတက် မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စရပ်နှင့်စပ်လျဉ်း၍ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၇ )ရက်နေ့တွင်ကျင်းပပြုလုပ်သော Investment Information Collection & Promotion Teams ( IICPT ) အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။သို့ဖြစ်ပါ၍ အမှာစာ နှင့် အဆိုပြုချက်များကို ( IICPT ) အစည်းအဝေးဆုံးဖြတ်ချက်များနှင့် အညီပြန်လည်ပြင်ဆင်၍ ကော်မရှင်သို့ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN SAN MYINT
MANAGING DIRECTOR
BGG MANUFACTURING CO., LTD.

# BGG Manufacturing Company Limited

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂) နေပြည်တော်

စာအမှတ်။ ။ BGG / MIC / ၂၀၁၃ (၀၀၁)

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ဇန်နဝါရီလ ( ၂၃ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် BGG Manufacturing Company Limited တည်ထောင်၍အိမ်အမိုးသွပ် အမျိုးမျိုးထုတ်လုပ်ရောင်းချခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ။

BGG Manufacturing Company Limited သည် မြန်မာနိုင်ငံတွင် တည်ဆောက်ရေးလုပ်ငန်းများ အတွက်အရည်အသွေးပြည့်ဝသော အိမ်မိုးသွပ်အမျိုးမျိုးတို့ကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအဖြစ် ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

ထုတ်လုပ်မှု ကနဦးနှစ်များတွင် ပြည်တွင်း၌ သွင်းကုန်အစားထိုး လုပ်ငန်းအဖြစ် ဖြန့်ဖြူးရောင်းချမည်ဖြစ်၍ နောက်ပိုင်းနှစ်များတွင် အဆင့်အတန်းမှီ အိမ်မိုးသွပ်နှင့် ၄င်းနှင့်ဆက်စပ်သော အစိတ်အပိုင်းများကို ထုတ်လုပ်၍ ဗီယက်နမ်နိုင်ငံနှင့် အိမ်နီးချင်းနိုင်ငံများသို့ တင်ပို့ရန် လျာထားထားပါသည်။

ထုတ်လုပ်မည့် ပစ္စည်းအမျိုးအစားများမှာ- Purlin C,Purlin Z,Circle ribs,Square ribs (ribs), Tile shape sheet,Arch sheet,Eaves စသည်တို့ဖြစ်ပါသည်။ နိုင်ငံတွင်းနှင့် ပြည်ပပို့ရန်ရည်ရွယ်၍ အထက်ပါပစ္စည်းများကိုထုတ်လုပ် ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ပြီး၊ထုတ်လုပ်မည့် အသေးစိတ်စာရင်းကို နောက်ဆက်တွဲဖြင့် တင်ပြထားပါသည်။လုပ်ငန်းများဆောင်ရွက်ရာတွင် နိုင်ငံတကာအဆင့်အတန်းမီ ခေတ်မီနည်းပညာ စက်ကိရိယာများအသုံးပြုမည်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှု နိုင်ငံခြားငွေ US$ (350,000) အပါအဝင် စုစုပေါင်းကျပ် သန်း (၅၀၀) ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**BGG** Manufacturing Company Limited

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

သို့ပါဖြစ်၍ မြန်မာနိုင်ငံ၏ဖွံ့ဖြိုးမှု လုပ်ငန်းများတွင် လိုအပ်သည့် ဆောက်လုပ်ရေး လုပ်ငန်းများတွင် အသုံးပြုရန်အတွက် အဆင့်အတန်းမှီ အိမ်မိုးသွပ်နှင့်၄င်းနှင့် ဆက်စပ်သောပစ္စည်းများကို နိုင်ငံတော်အတွင်း ထုတ်လုပ်ခြင်းဖြင့် သွင်းကုန်အစားထိုးလုပ်ငန်း အဖြစ်လည်းကောင်း၊ နောက်ပိုင်းနှစ်များတွင် ပြည်ပသို့ တင်ပို့နိုင်ခြင်း၊ မြန်မာနိုင်ငံသားများ အလုပ်အကိုင် အခွင့်လမ်း ရရှိစေခြင်း၊ ဒေသဖွံ့ဖြိုး တိုးတက်စေခြင်း စသည့် အကျိုးကျေးဇူးများ ရရှိနိုင်မည်ဖြစ်ပါ၍. မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် BGG Manufacturing Company Limited တည်ထောင်၍အိမ်အမိုးသွပ် အမျိုးမျိုး ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် တင်ပြအပ်ပါသည်။ အောက်ပါစာရွက် စာတမ်းများပူးတွဲ တင်ပြပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုရန် ကမကထပြုသူ၏ အဆိုပြုချက်

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထား

(ဂ) မြေငှားစာချုပ် မူကြမ်း

(ဃ) ဘဏ္ဍာရေးအချက်အလက်နှင့် ပတ်သက်၍ တွက်ချက်မှုဇယား

(င) သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့ စည်းမျဉ်း၊

(စ) အမိုးပြား ထုတ်လုပ်ပုံနည်းစနစ်အတွက် ထုတ်လုပ်ခြင်းဆိုင်ရာ စာရွက်စာတမ်းများ

မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်ပါ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် လေးစားစွာဖြင့် တင်ပြအပ်ပါသသည်။

လေးစားစွာဖြင့်

ကမကထပြုသူ

ဒေါ်ခင်စန်းမြင့်

BGG Manufacturing
Co.,Ltd

# BGG Manufacturing Company Limited

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂)၊ နေပြည်တော်

စာအမှတ်။ ။BGG/ MIC/ 2013(၀၀၃ )

ရက်စွဲ ။ ။၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ(၂၃)ရက်

BGG Manufacturing Company Limited သည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အောက်ပါအခွန်ကင်းလွတ်ခွင့် ၊ သက်သာခွင့်များကို ခံစားခွင့်ပြုပါရန်တင်ပြအပ်ပါသည်-

(၁) ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ( ၃ ) နှစ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုသည့်စီးပွားဖြစ်စတင်သည့်နေ့မှစတင်ခံစားခွင့်ပြုပါရန်၊

(၂ )ရရှိသည့်အမြတ်ပေါ်တွင်သီးသန့်ရန်ပုံငွေထား၍ (၁)နှစ် အတွင်းပြန်လည် ရင်းနှီးမြှုပ်နှံပါကဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုပါရန်၊

(၃) ငွေခွန်စည်းကြပ်ရာတွင် စက်ပစ္စည်း နှင့် အခြားကိရိယာများအပေါ် တန်ဖိုးလျော့နှုန်းကိုကော်မရှင်ကသတ်မှတ်ထားသည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီအောင်နှုတ်ပယ်ခွင့်ပြုပါရန်၊

(၄) နိုင်ငံခြားသား အမှုထမ်းများအတွက် ဝင်ငွေခွန်ကို စည်းကြပ်ဝင်ငွေမှ နှုတ်ပယ်ခွင့်ပြုပါရန်၊

BGG Manufacturing Company Limited
#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com

(၅) နိုင်ငံခြားသားများ၏ ဝင်ငွေအပေါ် ပြည်တွင်းနေနိုင်ငံသားများပေးဆောင်သည့်ဝင်ငွေ ခွန်နှုန်းထားအတိုင်း ဝင်ငွေခွန်ပေးဆောင်ခွင့်ပြုပါရန်၊

(၆) တည်ဆောက်မှုကာလအတွင်း ရင်းနှီးမြှုပ်နှံမှုအဖြစ်ထည့်ဝင်မည့် စက် ၊ စက်ကိရိယာ နှင့်လုပ်ငန်းသုံးပစ္စည်းများအပေါ်အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါရန်

BGG Manufacturing Company Limited.. အားမြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေ ဖြင့်ခွင့်ပြုမိန့် ထုတ်ပေးပါရန်နှင့်ကော်မရှင်မှ သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်းများ နှင့် အညီလိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ခင်စန်းမြင့်
အဆိုပြုဒါရိုက်တာ
BGG Manufacturing Company Limited

# BGG Manufacturing Company Limited

#10-A (10th Floor), No.483, Aye Yeik Thar 2 Street, New University Avenue Road,
Aye Yeik Thar Condo, Sayar San Quarter, Bahan Township, Yangon, Myanmar.
Tel:/Fax: +95-1-8603741, +95-9-73093720 +95-1-557947, 555952 (Ext:8111)
E-mail: bgg.myn@gmail.com


သို့

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

နေပြည်တော်။

စာအမှတ်။ ။ BGG / MIC / ၂၀၁၃ ( ၀၀၈ )

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ မတ်လ ( ၂၉ )ရက်

အကြောင်းအရာ။ ။ BGG Manufacturing Co.,Ltd မှ နိုင်ငံတကာ အဆင့်မီသွပ်အမိုးပြားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စရပ်နှင့် စပ်လျဉ်း၍ ပြန်လည် ရှင်းလင်းတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄. ၃. ၂၀၁၃)ရက်စွဲပါ စာအမှတ် ၇က-၆(က/မ ၁၃၀၇ / ၂၀၁၃ (၂၈၉၅-ခ)

ကျွန်မတို့ BGG Manufacturing Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်တွင် နိုင်ငံတကာအဆင့်မီ သွပ်အမိုးပြားများထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါ စာအရ လမ်းညွှန်ချက်အပေါ် အောက်ပါအတိုင်း ပြန်လည်ရှင်းလင်းတင်ပြအပ်ပါသည်။

(က) ထုတ်လုပ်မှုနည်းစဉ်များမှာ ရည်ညွှန်းချက်ပါစာ၏ အပိုဒ် (၂)(က)ပါစာအရ ကုန်ထုတ်လုပ်မှု နည်းစဉ်များမှာ ထုတ်လုပ်မည့်ပစ္စည်းများသည် Purline C , Purlin Z,Circle ribs, Square Ribs(ribs), Tile Shape Sheet, Arch Sheet , Eaves တို့ဖြစ်ပြီး သွပ်ပြားပုံသွင်းစက်၊ သွပ်ပြားပုံဖော်စက် ၊ ဖြတ်စက် ( ၉ ) မျိုးအား ပြည်ပမှမှာယူတင်သွင်း၍ တပ်ဆင်အသုံးပြုမည်

